ကန့်သတ်

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Aquaculture (Myanmar) Limited မှ Barramundi (Seabass) ငါးသားပေါက်များ နှင့် မွေးမြူရေး ငါးများကို ကြီးပြင်းအောင် မွေးမြူခြင်း၊ ဈေးကွက်တင် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြုချက် တင်ပြ လာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Texchem Aquaculture (Myanmar) Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Goh Chin Meng (Malaysian) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Texchem Food Sdn. Bhd. (Malaysia) ၁၀၀ % |
| | လုပ်ငန်းအမျိုးအစား | - Barramundi (Seabass) ငါးသားပေါက်များနှင့် မွေးမြူရေး ငါးများကို ကြီးပြင်းအောင် မွေးမြူခြင်း၊ ဈေးကွက်တင် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(၂/၉+ ၃/၁+ ၃/၂+ ၃/၃+ ၃/ ၆+ ၄+ ၂၄/၁+ ၅၂+၅၃+ ၂၅/၃၉) နှင့် ၂၅/၆+ ၂၅/၇+ ၂၅/၈+ ၆၁+ ၆၂+ ၆၃)၊ အကွက်အမှတ်- ၅၉၉/ ရွှေပုရေကျော်ကွင်း၊ ကျောက်ဖြူ ကျေးရွာအုပ်စု၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်း ဒေသကြီး |
| ၃။ | မြေအသုံးပြုခွင့်ရရှိသူ | - ဦးမောင်စစ် (ခ) Chew Won Min (Mascot Industries Co., Ltd.) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၈၅.၀၉ ဧက အနက်မှ ၅၅ ဧက (၂၂၂,၅၇၇.၃၀ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ်ငှားရမ်းခ ကျပ် ၁၅၀,၀၀၀,၀၀၀<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၆၇၃.၉၂ နှုန်း |
| | မြေငှားရမ်း အသုံးပြုခွင့် သက်တမ်း | - ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို သည့်သက်တမ်း | - ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၃၆ လ |

ကန့်သတ်

၆။ **စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား**

- **အမေရိကန်ဒေါ်လာ ၀.၈၉၉ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၀.၃၄၉ သန်းအပါအဝင်)**

| အကြောင်းအရာ | (US$/သန်း) |
|---|---|
| Cash | ၀.၀၃၀ |
| Wiring (Factory Equipment) (Local) | ၀.၀၀၅ |
| Lightings (Factory Equipment) (Local) | ၀.၀၀၅ |
| Generator (200 KVA) (Local) | ၀.၀၂၈ |
| Miscellaneous Equipment (Import) | ၀.၀၅၇ |
| Construction of Ponds (Local) | ၀.၀၃၀ |
| Raw Material for First Year (Import) | ၀.၃၉၅ |
| Loan | ၀.၃၄၉ |
| စုစုပေါင်း | ၀.၈၉၉ |

၇။ **ဝန်ထမ်းအင်အား**

- **၅၈ ဦး**

ပြည်တွင်း

- ၅၆ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၁၇၅ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$၃၂၅ ဖြစ်ပါသည်။)

ပြည်ပ

- ၂ ဦး (ပြည်ပဝန်ထမ်း တစ်ဦး၏လစာမှာ US$ ၁,၃၃၂ ဖြစ်ပါသည်။)

၈။ **ရောင်းချမည့်စနစ်**

- ပြည်တွင်း ၇၀%၊ ပြည်ပ ၃၀ %

**နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)**

| စဉ် | အမျိုးအစား | ပြည်တွင်း (၇၀ %) | | ပြည်ပ (၃၀ %) | |
|---|---|---|---|---|---|
| | | အရေအတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Kg) | အရေအတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (US$/ Kg) |
| (က) | Barramundi (Seabass) | ၁၅၇,၅၀၀ | ၄,၄၉၅.၀၀ | ၆၇,၅၀၀ | ၂.၉၀ |

၉။ **အခြားတင်ပြချက်**

- မြေအထောက်အထားအဖြစ် ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့မှ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် (ပုံစံ-၁၅)နှင့် ပုံစံ (၁၀၅)တို့ကို ဦးမောင်စစ် (ခ) Chew Won Min (Mascot Industries Co., Ltd.) အမည်ဖြင့် အသုံးပြုခွင့်ပြုထားသည့်စာများ၊ တည်နေရာပြမြေပုံနှင့် ကုမ္ပဏီ မှတ်ပုံတင်ကတ် မိတ္တူ တို့ကို တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - မြေအသုံးပြုခွင့်ရရှိသူ ဦးမောင်စစ် (ခ) Chew Won Min (Mascot Industries Co., Ltd.) နှင့် Texchem Aquaculture (Myanmar) Limited တို့ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း) ကိုတင်ပြထားပါသည်။<br>- မလေးရှားနိုင်ငံတွင် Texchem Food Sdn. Bhd. အား ၂၁-၁၁-၂၀၀၁ ရက်နေ့တွင် မှတ်ပုံတင်ထားသော Certificate တင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြ ထားပါသည်။<br>- Texchem Aquaculture (Myanmar) Limited သည် မလေးရှားနိုင်ငံရှိ Texchem Food Sdn. Bhd. မှ ချေးငွေ အမေရိကန် ဒေါ်လာ ၃၄၈,၈၃၇.၂၁ အား ချေးယူမည်ဖြစ်ပြီး ချေးငွေ စာချုပ် မူကြမ်းကို တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Texchem Food Sdn. Bhd. အမည်ဖြင့် မလေးရှားနိုင်ငံရှိ May Bank ၌ ၁၃-၁၁-၂၀၁၈ ရက်နေ့တွင် အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ ၀.၀၅၇ သန်း၊ Barramundi Fish (Seabass) တန်ဖိုး အမေရိကန်ဒေါ်လာ ၀.၀၆၇ သန်းနှင့် Fish Feed တန်ဖိုးအမေရိကန် ဒေါ်လာ ၀.၃၂၈ သန်းအား ပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0321,0322 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန်(၁)တွင် ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ဧရာဝတီတိုင်းဒေသကြီးအစိုးရ အဖွဲ့မှ လယ်ယာမြေ အခြားနည်းအသုံးပြုမှု ခွင့်ပြုချက် ရရှိပြီးမှသာ ဥပဒေနှင့်အညီ ခွင့်ပြုသင့်ပါကြောင်း သဘောထား ပြန်ကြားချက်အရ လယ်ယာမြေအခြားနည်းအသုံးပြုမှု ခွင့်ပြုချက် ရရှိပြီးမှ ပြန်လည်တင်ပြရန် ကုမ္ပဏီသို့ ၂၃-၂-၂၀၁၈ ရက်စွဲဖြင့် အကြောင်း ကြားခဲ့ပါသည်။ |

| | | |
|---|---|---|
| | | - ယခုအခါ ကုမ္ပဏီမှ လယ်ယာမြေအခြားနည်းအသုံးပြုမှု ခွင့်ပြုချက် ရရှိပြီးသော မြေအထောက်အထားများဖြင့် ပြန်လည်တင်ပြလာခြင်းဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE)ဆောင်ရွက်ရန် ဖြစ်ကြောင်း ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီး ဌာနမှ သဘောထား ပြန်ကြားထားပါသည်။<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ငါးမွေးမြူခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် သက်ဆိုင်ရာမြို့နယ်၊ ငါးလုပ်ငန်းဦးစီးဌာနတွင် နှစ်စဉ် (ယာယီ) လိုင်စင်များ လျှောက်ထားရယူ၍ လည်းကောင်း၊ ပြည်ပမှ ငါးသားပေါက်များနှင့် ငါးစာများ တင်သွင်းရာတွင် ငါးလုပ်ငန်းဦးစီးဌာန၏ သဘောထားမှတ်ချက် လျှောက်ထားရယူခြင်းဖြင့် လည်းကောင်း၊ ကောင်းမွန်သော ရေသတ္တဝါ မွေးမြူရေး ကျင့်စဉ်ရပ် (Good Aquaculture Practices) နှင့်အညီ မွေးမြူ ထုတ်လုပ်ရန် လိုအပ်မည် ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/အ-၀၃၈/၂၀၁၈( ၅၂၃ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၁၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Aquaculture (Myanmar) Limited မှ Barramundi (Seabass) ငါးသားပေါက်များနှင့် မွေးမြူရေး ငါးများကို ကြီးပြင်းအောင် မွေးမြူခြင်း၊ ဈေးကွက်တင် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မလေးရှားနိုင်ငံ Texchem Food Sdn. Bhd. မှ ၁၀၀% အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Texchem Aquaculture (Myanmar) Limited မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်(၂/၉+၃/၁+၃/၂+ ၃/၃+၃/၆+၄+၂၄/၁+ ၅၂+၅၃+ ၂၅/၃၉) နှင့် ၂၅/၆+ ၂၅/၇+ ၂၅/၈+ ၆၁+ ၆၂+ ၆၃)၊ အကွက်အမှတ်- ၅၉၉/ ရွှေပုရေကျော်ကွင်း၊ ကျောက်ဖြူကျေးရွာအုပ်စု၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ စုစုပေါင်း မြေ (၈၅.၀၉)ဧကအနက်မှ မြေ ၅၅ ဧက (၂၂၂,၅၇၇.၃၀ စတုရန်းမီတာ) အား ငှားရမ်း၍ Barramundi (Seabass) ငါးသားပေါက်များနှင့် မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုချက် တင်ပြလာပါသည်။

၂။ မြေအသုံးပြုခွင့်ရရှိသူ ဦးမောင်စစ် (ခ) Chew Won Min (Mascot Industries Co., Ltd.) နှင့် Texchem Aquaculture (Myanmar) Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့မှ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် (ပုံစံ-၁၅)နှင့် ပုံစံ(၁၀၅)တို့ကို ဦးမောင်စစ် (ခ) Chew Won Min (Mascot Industries Co., Ltd.) အမည်ဖြင့် အသုံးပြုခွင့်ပြုထားသည့် အထောက်အထားနှင့် တည်နေရာပြမြေပုံတို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ ကျပ် ၁၅၀,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၆၇၃.၉၂ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၃၆ လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၀.၈၉၉ သန်း (ချေးငွေ အမေရိကန် ဒေါ်လာ ၀.၃၄၉ သန်းအပါအဝင်) ဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| အကြောင်းအရာ | (US$/သန်း) |
|---|---|
| Cash | ၀.၀၃၀ |
| Wiring (Factory Equipment) (Local) | ၀.၀၀၅ |
| Lightings (Factory Equipment) (Local) | ၀.၀၀၅ |
| Generator (200 KVA) (Local) | ၀.၀၂၈ |
| Miscellaneous Equipment (Import) | ၀.၀၅၇ |
| Construction of Ponds (Local) | ၀.၀၃၀ |
| Raw Material for First Year (Import) | ၀.၃၉၅ |
| Loan | ၀.၃၄၉ |
| စုစုပေါင်း | ၀.၈၉၉ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၅၆)ဦးနှင့် ပြည်ပဝန်ထမ်း (၂) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၅၈ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၇၅ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၃၂၅ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁,၁၃၂ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ငါးများအား ပြည်တွင်း ၇၀% နှင့် ပြည်ပ ၃၀ %ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအစား | ပြည်တွင်း (၇၀ %) | | ပြည်ပ (၃၀ %) | |
|---|---|---|---|---|
| | အရေ အတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Kg) | အရေ အတွက် (Kg) | ရောင်းချမည့် ဈေးနှုန်း (US$/ Kg) |
| Barramundi (Seabass) | ၁၅၇,၅၀၀ | ၄,၄၉၅.၀၀ | ၆၇,၅၀၀ | ၂.၉၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့်ပြုချက်ရရှိအောင် ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**မှ ငါးမွေးမြူခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် သက်ဆိုင်ရာမြို့နယ်၊ ငါးလုပ်ငန်းဦးစီးဌာနတွင် နှစ်စဉ် (ယာယီ) လိုင်စင်များ လျှောက်ထားရယူ၍ လည်းကောင်း၊ ပြည်ပမှ ငါးသားပေါက်များနှင့် ငါးစာများ တင်သွင်းရာတွင် ငါးလုပ်ငန်းဦးစီးဌာန၏ သဘောထားမှတ်ချက် လျှောက်ထားရယူခြင်းဖြင့် လည်းကောင်း၊ ကောင်းမွန်သော ရေသတ္တဝါ မွေးမြူရေး

ကျင့်စဉ်ရပ် (Good Aquaculture Practices) နှင့်အညီ မွေးမြူ ထုတ်လုပ်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination - IEE)ကို ဆောင်ရွက်ရမည်ဖြစ်ကြောင်းနှင့် အဆိုပါ IEE ကိုကျွမ်းကျင် ပညာရှင်များဖြင့် ပြုလုပ်၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ကုမ္ပဏီသို့ အကြောင်းသည့်စာအား တင်ပြထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Texchem Food Sdn. Bhd. အမည်ဖြင့် မလေးရှားနိုင်ငံရှိ May Bank ၌ ၁၃-၁၁-၂၀၁၈ ရက်နေ့တွင် အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် လယ်ယာမြေအခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ရရှိပြီးဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ (ဃ) အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများစာရင်းတွင် ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Aquaculture (Myanmar) Limited မှ Barramundi (Seabass) ငါးသားပေါက်များနှင့် မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ဧရာဝတီတိုင်းဒေသကြီး**

စာအမှတ်၊ ၄၀၀/၄ - ၈(၁)/အစိုးရ(ဧရာဝတီ)
ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉.၁၂.၂၀၁၇) ရက်စွဲပါစာအမှတ်၊ မရက- ၂ / ခ- ၀၁၁ / ၂၀၁၇ (၉၆၀)

၁။ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd. မှ (၉၉.၉၉)ရာခိုင်နှုန်းနှင့် မလေးရှားနိုင်ငံသား Mr.Brian Tan Guan Hooi မှ (၀.၀၁)ရာခိုင်နှုန်း အစုရှယ်ယာများထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Texchem Aquaculture (Myanmar) Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့နယ်၊ ရွှေပုရေကျော်၊ ကျောက်ဖြူ ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၂/၁ + ၂/၃ + ၂/၄ + ၂/၅ + ၂/၆ + ၄၂ + ၄၈ + ၅၇ + ၆၉ + ၇၂) နှင့် (၂/၉ + ၃/၁ + ၃/၂ + ၃/၃ + ၃/၆ + ၄ + ၂၄/၁ + ၅၂ + ၅၃ + ၂၅/၃၉)၊ ကွင်းပိုင်အမှတ် (၅၅၉) အတွင်းရှိ စုစုပေါင်းမြေဧရိယာ (၈၉.၃၁)ဧက အနက်မှ (၅၅)ဧက (၂၂၂၅၇၇.၃ စတုရန်းမီတာ)ကို ငှားရမ်း၍ ငါးသားပေါက်များနှင့် မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံ လာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မလေးရှားနိုင်ငံကုမ္ပဏီ၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် ငှားရမ်းအသုံးပြုမည့်မြေမှာ လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ကို ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လျှောက်ထားပြီးဖြစ်ပါသောကြောင့် လယ်ယာမြေအခြားနည်းအသုံးပြုမှု ခွင့်ပြုချက်ရရှိ ပြီးမှသာ ဥပဒေနှင့်အညီခွင့်ပြုသင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား)
(ငွေဝင်း၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ ပုသိမ်မြို့
Texchem Aquaculture (Myanmar) Co.,Ltd
လုည့်လည်စာတွဲ / ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၉၇၂ /၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ၃၁ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၁၁/၂၀၁၇(၉၃၂-က)

၁။ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd. မှ (၉၉.၉၉%) နှင့် မလေးရှားနိုင်ငံသား Mr. Brian Tan Guan Hooi မှ (၀.၀၁%) အစုရှယ်ယာများထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Texchem Aquaculture (Myanmar) Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့နယ်၊ ရွှေပုရေကျော်၊ ကျောက်ဖြူ ကျေးရွာအုပ်စု ဦးပိုင်အမှတ်-(၂/၁+၂/၃+၂/၄+၂/၅+၂/၆+၄၂+၄၈+၅၇+၆၉+၇၂) နှင့် (၂/၉+၃/၁+ ၃/၂+၃/၃+၃/၆+၄+၂၄/၁+၅၂+၅၃+၂၅/၃၉)၊ ကွင်းအမှတ်-၅၅၉ အတွင်းရှိ စုစုပေါင်းမြေဧရိယာ (၈၉.၃၁)ဧက အနက်မှ (၅၅)ဧက (၂၂၂၅၇၇.၃ စတုရန်းမီတာ) ကို ငှားရမ်း၍ ငါးသားပေါက်များ နှင့် မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာမှုနှင့်ပတ်သက်၍ သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ဖမေတ္တာရပ်ခံ အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Texchem Aquaculture (Myanmar) Company Limited မှ ငှားရမ်း လုပ်ကိုင်မည့် မြေနေရာများသည် လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့် လယ(၃၀) ရရှိပြီးပါက ငါးမွေးမြူရေးကန်များ တူးဖော်ခြင်း၊ ငါးသားဖောက်လုပ်ငန်း လုပ်ကိုင်ခြင်း၊ ငါးမွေးမြူခြင်း လုပ်ငန်း လုပ်ကိုင်ခြင်းတို့ကို ဆောင်ရွက်ရာတွင် သက်ဆိုင်ရာမြို့နယ် ငါးလုပ်ငန်းဦးစီးဌာနတွင် နှစ်စဉ် (ယာယီ) လိုင်စင်များ လျှောက်ထားရယူ၍လည်းကောင်း၊ ပြည်ပမှ ငါးသားပေါက်များနှင့် ငါးအစာများ တင်သွင်းရာတွင် ငါးလုပ်ငန်းဦးစီးဌာန၏ သဘောထားမှတ်ချက် လျှောက်ထားရယူ ခြင်းဖြင့်လည်းကောင်း၊ ကောင်းမွန်သော ရေသတ္တဝါမွေးမြူခြင်းကျင့်ရပ်စဉ် (Good Aquaculture Practices) နှင့်အညီ မွေးမြူထုတ်လုပ်ရန် လိုအပ်မည်ဖြစ်ပါကြောင်း စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားအား ပြန်ကြားအပ်ပါသည်။

၂၉-၁၂-၂၀၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
(၂) ရုံးလက်ခံ
(၃) မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန
ငါးလုပ်ငန်းဦးစီးဌာန

စာအမှတ်၊ ငလ/နပတ-၆ / ၂၀၁၇ (၈၁၇၂)
ရက်စွဲ။ ၂၀၁၇ခုနှစ် ဒီဇင်ဘာလ (၂၉) ရက်။

သို့

ပြည်ထောင်စုဝန်ကြီးရုံး
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏(၂၇-၁၂-၂၀၁၇)ရက်စွဲပါစာအမှတ်၃/၂၀၀၀/မွေးရေကျေး/(၉၆၆/၂၀၁၇)

၁။ မလေးရှားနိုင်ငံ Texchem Food Sdn.Bhd.၏ (၉၉.၉၉%) နှင့် မလေးရှားနိုင်ငံသား Mr. Brian Tan Guan Hooi ၏ (၀.၀၁%) တို့၏ အစုရှယ်ယာများထည့်ဝင်မှုဖြင့် မြန်မာနိုင်ငံတွင် Texchem Aquaculture (Myanmar) Company Limited တည်ထောင်ပြီး ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့နယ်၊ ရွှေပုရေကျော်၊ ကျောက်ဖြူကျေးရွာအုပ်စုဦးပိုင်အမှတ်- (၂/၁+၂/၃+၂/၄+၂/၅+၂/၆+၄၂+၅၇+၆၉+၇၂)နှင့် (၂/၉+၃/၁+၃/၂+၃/၃+၃/၆+၄+၂၄/၁+၅၂+၅၃+၂၅/၃၉)၊ ကွင်းအမှတ်-၅၅၉ အတွင်းရှိ စုစုပေါင်းမြေဧရိယာ (၈၉.၃၁) ဧက အနက်မှ (၅၅) ဧက (၂၂၂၅၇၇.၃ စတုရန်းမီတာ) ကို ငှားရမ်း၍ ငါးသားပေါက်များနှင့် မွေးမြူရေး ငါးများကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာမှုနှင့်ပတ်သက်၍ ငါးလုပ်ငန်းဦးစီးဌာနမှ စိစစ်ပြီး သဘောထားမှတ်ချက်အား ပြည်ထောင်စုဝန်ကြီးရုံးသို့ (၂၉-၁၂-၂၀၁၇) ရက်၊ နေ့လည် (၁၄:၀၀) နာရီအရောက်တင်ပြပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီမှငှားရမ်းလုပ်ကိုင်မည့် မြေနေရာများသည် လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့် လယ (၃၀) ရရှိပြီးပါက ငါးမွေးမြူကန်များ တူးဖော်ခြင်း၊ ငါးသားဖောက်လုပ်ငန်းလုပ်ကိုင်ခြင်း၊ ငါးမွေးမြူခြင်းလုပ်ငန်းလုပ်ကိုင်ခြင်းတို့ကိုဆောင်ရွက်ရာတွင် သက်ဆိုင်ရာမြို့နယ်ငါးလုပ်ငန်းဦးစီးဌာနတွင် နှစ်စဉ် (ယာယီ) လိုင်စင်များလျှောက်ထားရယူ၍လည်းကောင်း၊ ပြည်ပမှ ငါးသားပေါက်များနှင့်ငါးအစာများတင်သွင်းရာတွင် ငါးလုပ်ငန်းဦးစီးဌာန၏သဘောထားမှတ်ချက် လျှောက်ထားရယူခြင်းဖြင့်လည်းကောင်း၊ ကောင်းမွန်သောရေသတ္တဝါမွေးမြူခြင်းကျင့်ရပ် (Good Aquaculture Practices) နှင့်အညီမွေးမြူထုတ်လုပ်ရန်လိုအပ်မည်ဖြစ်ကြောင်း ငါးလုပ်ငန်းဦးစီးဌာန၏ သဘောထားမှတ်ချက်အား ပြုစုတင်ပြအပ်ပါသည်။

ခင်မောင်မော်
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို-
- ရုံးလက်ခံ/ မျှော

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရုံးအမှတ်(၅၃)၊နေပြည်တော်

စာအမှတ်၊ အီးအိုင်အေ - ၂/၃ ( ၉၀၉ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဩဂုတ်လ ၂ ရက်

သို့

အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့

အကြောင်းအရာ။ Texchem Aquaculture (Myanmar) Company Limited မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အား ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE) သို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလျှောက်ထားလာခြင်း

ရည်ညွှန်းချက်။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ ၁၃-၂-၂၀၁၈ ရက်စွဲပါ၊ စာအမှတ်၊ ပပ၁/MIC(OSS)/ထွေ(၃/၂၀၁၈)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Texchem Aquaculture (Myanmar) Company Limited မှ ရာခိုင်နန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့နယ်၊ ရွှေပုရေကျော်၊ ကျောက်ဖြူကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၅၉ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၈၉.၃၁ဧက အနက်မှ ၅၅ ဧက(၂၂၂ ၅၇၇.၃ စတုရန်းမီတာ) ကို ငှားရမ်း၍ ငါးသားပေါက်များနှင့် မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင် ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) ဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်း လုပ်ငန်းအဖွဲ့၏ ၁၅-၁၂-၂၀၁၇ ရက်စွဲပါ၊ စာအမှတ်၊ ပပ၁/MIC(OSS)/ပ၁(၁၉၈/၁၇) ဖြင့် ပြန်ကြားခဲ့ပြီး ယခုအခါ Texchem Aquacul-ture (Myanmar) Company Limited မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအတွက် ကနဦးအသုံးပြုမည့်ဧရိယာမှာ (၅၅) ဧကသာ သုံးစွဲမည် ဖြစ်ပြီး ငါးမျိုးစိတ်တင်သွင်းပြီး သားဖောက်မည့်လုပ်ငန်းမှာလည်း ပတ်ဝန်းကျင်ထိခိုက်မှု မရှိအောင် ဆောင်ရွက်မည်ဖြစ်ပါသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစား ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) သို့ ပြောင်းလဲရေးဆွဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာကြောင်း ရည်ညွှန်းပါစာဖြင့် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ တင်ပြလာပါသည်။

၂။ Texchem Aquaculture (Myanmar) Company Limited မှ ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့နယ်၊ ရွှေပုရေကျော်၊ ကျောက်ဖြူကျေးရွာအုပ်စု၊ ကွင်းအမှတ်-၅၅၉ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၈၉.၃၁ဧက အနက်မှ ၅၅ ဧက(၂၂၂ ၅၇၇.၃ စတုရန်းမီတာ) ကို ငှားရမ်း၍

ငါးသားပေါက်များနှင့် မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်းအတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ (က) အမှတ်စဉ် (၃၄) အရ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ဆောင်ရွက်ရမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Texchem Aquaculture (Myanmar) ကုမ္ပဏီအနေဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ (က) ပါအချက်များအရ ကျွမ်းကျင် ပညာရှင်များဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(IEE)ပြုလုပ်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပြန်လည်တင်ပြအတည်ပြုချက်ရယူရန် အကြောင်းကြားပါသည်။

၂၄.၈.၂၀၁၈

(လှမောင်သိန်း)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ၊ မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS)/ဝ၆( ၄၇၂/၁၈ )
ရက် စွဲ ၊ ၂၀၁၈ခုနှစ် ဩဂုတ်လ ၁၅ ရက်

အကြောင်းအရာ။ **Texchem Aquaculture (Myanmar) Company Limited မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(EIA) အား ကနဦးပတ်ဝန်းကျင်စစ်ဆေးခြင်း (IEE) သို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလျှောက်ထားလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ၂ - ၈ -၂၀၁၈ ရက်စွဲပါစာအမှတ်၊ အီးအိုင်အေ - ၂/၃(၉၀၉ /၂၀၁၈)

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Texchem Aquaculture (Myanmar) Co., Ltd.မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့နယ်၊ ရွှေပုရေကျော်၊ ကျောက်ဖြူကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-(၂/၁+၂/၃+၂/၄+၂/၅+၂/၆+၄၂+၄၈+၅၇+၆၉+၇၂) နှင့် (၂/၉+၃/၁+ ၃/၂+၃/၃+၃/၆+၄+၂၄/၁+၅၂+ ၅၃+၂၅/၃၉)၊ ကွင်းအမှတ်- ၅၅၉ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၈၉.၃၁ ဧကအနက်မှ ၅၅ ဧက (၂၂၂ ၅၇၇.၃စတုရန်းမီတာ) ကို ငှားရမ်း၍ ငါးသားပေါက်များနှင့်မွေးမြူရေးငါးများကိုကြီးပြင်းအောင်မွေးမြူခြင်း၊ ဈေးကွက်တင်ရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစား ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ရေးဆွဲဆောင်ရွက်ခွင့်ပြုနိုင်ပါရန် တင်ပြထားမှုအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ စိစစ်သုံးသပ်ပြီး ရည်ညွှန်းပါစာဖြင့် အကြောင်းပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Texchem Aquaculture (Myanmar) Co., Ltd. မှ စုစုပေါင်း မြေဧရိယာ ၈၉.၃၁ဧကအနက်မှ ကနဦး ၅၅ဧက (၂၂၂ ၅၇၇.၃ စတုရန်းမီတာ) ကို ငှားရမ်း၍ ငါးသားပေါက်များနှင့်မွေးမြူရေးငါးများကို ကြီးပြင်းအောင်မွေးမြူခြင်းအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနောက်ဆက်တွဲ (က) အမှတ်စဉ် (၃၄) အရ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) ဆောင်ရွက်ရမည်ဖြစ်ကြောင်းနှင့် အဆိုပါ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) ကို ကျွမ်းကျင်ပညာရှင်များဖြင့် ပြုလုပ်၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ရေးဆွဲကာ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး

ဝန်ကြီးဌာနသို့ ပြန်လည် တင်ပြ အတည်ပြုချက်ရယူသွားရန် အကြောင်းကြား အပ်ပါသည်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**အမှုဆောင်ဒါရိုက်တာ**
Texchem Aquaculture (Myanmar) Company Limited
မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး
ရုံးလက်ခံ